အကြောင်းအရာ။ **ရခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Riverside Bagan Limited မှ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြ ခြင်း ကိစ္စ။**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br><br>လုပ်ငန်းအမျိုးအစား | - Riverside Bagan Limited<br>- Mr. Chi Yam Cyrus Pun<br>- ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု (MM(BL)PTE.LTD – ၁၀၀%) စင်္ကာပူနိုင်ငံ<br>- ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းများ |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်-(၆က)၊(၆ခ)၊(၆ဃ)၊(၆င)၊(၆စ)၊(၆ဆ)၊(၆ဇ)၊ (၇က)၊(၇ခ)၊(၇ဃ)၊၉၊၁၀၊ကွင်းအမှတ်(၉-ရွာသစ်မြောက်)၊ အမှတ်(၄)ရပ်ကွက်နှင့်ဦးပိုင်အမှတ်(၁၁၊၁၂၊၁၃)၊ ကွင်းအမှတ် (၁၂-ယွန်းတန်းနှင့် ဇရပ်ကြီးဈေး)၊ အမှတ်(၂)ရပ်ကွက်၊ ညောင်ဦးမြို့နယ်၊ ညောင်ဦးခရိုင်၊ မန္တလေးတိုင်း ဒေသကြီး။ |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အဦအရေအတွက်<br><br><br><br><br><br><br><br><br><br><br>မြေငှားရမ်းခနှုန်း | - Chindwin Investments Limited<br>- စုစုပေါင်း ၄.၃၁ဧက (၁၇၄၄၁.၉၆၆၆စတုရန်းမီတာ)<br>(၂)ထပ်ဟိုတယ်အဆောက်အဦ (၉) လုံးအပါအဝင် စုစုပေါင်း (၁၄)လုံး<br>- Lobby/Lounge/Front office (၂)ထပ် (၁)လုံး<br>- Spa (၁)ထပ် (၁)လုံး<br>- Hotel BOH (၂)ထပ် (၁)လုံး<br>- Retail/F&B/BOH (၂)ထပ် (၁)လုံး<br>- River View Villas(၂)ခန်းတွဲ (၂) ထပ် (၃)လုံး<br>- Garden View Villas (၂)ခန်းတွဲ (၂) ထပ် (၆)လုံး<br>- Retail/Shop (၂) ထပ် (၁)လုံး<br>- တစ်နှစ်လျှင် **US$ ၁၀၀၀၀ နှုန်း**<br>(တစ်နှစ်အတွက်တစ်စတုရန်းမီတာလျှင် US$ ၀.၅၇ နှုန်း) |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး ၅၀နှစ် နှင့် နောက်ထပ် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ် |
| ၅။ | တည်ဆောက်မှုကာလ | - ၂နှစ် |

| | | |
|---|---|---|
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | US$ ၄.၆၀၀သန်း |
| | ငွေသား | US$ ၀.၄၅၁ သန်း |
| | ဟိုတယ်တည်ဆောက်ရေးသုံး ပစ္စည်း(ပြည်တွင်းဝယ်) | US$ ၀.၀၅၃ သန်း |
| | ဟိုတယ်အတွင်းပိုင်းသုံးပစ္စည်း (ပြည်တွင်းဝယ်) | US$ ၀.၄၃၃ သန်း |
| | ဟိုတယ်အတွင်းပိုင်းသုံးပစ္စည်း (ပြည်ပဝယ်) | US$ ၁.၈၈၉ သန်း |
| | ဟိုတယ်လုပ်ငန်းသုံးပစ္စည်း (ပြည်ပဝယ်) | US$ ၀.၃၄၁ သန်း |
| | Jettyဆက်စပ်ပစ္စည်းများ (ပြည်ပဝယ်) | US$ ၀.၀၉၁ သန်း |
| | မြေ ငှားရမ်းခ | US$ ၀.၅၀၀ သန်း |
| | Project Management & Design Fee | US$ ၀.၈၄၂ သန်း |
| ၇။ | ဆောင်ရွက်မည့်နည်းစနစ် | - ပြည်တွင်းဟိုတယ်ဝန်ဆောင်မှု |
| ၈။ | ဝန်ဆောင်ခနှုန်း | |

| အမျိုးအစား | အခန်း အရေ အတွက် | အခန်း ငှားရမ်းခနှုန်း US$ | |
|---|---|---|---|
| | | High Season (October to March) | Lower Season (April to September) |
| River View Villa (၂)ခန်းတွဲ(၂)ထပ် (၃)လုံး (Deluxe) | ၁၂ | ၃၀၀ | ၂၀၀ |
| Garden View Villa (၂)ခန်းတွဲ (၂)ထပ် (၆)လုံး (Deluxe) | ၂၄ | ၃၀၀ | ၂၀၀ |
| **စုစုပေါင်း** | ၃၆ | | |

- အောက်ထပ်(**Ground Floor**) ရှိ အခန်းများ၏ တစ်ခန်းအကျယ်အဝန်း မှာ (၂၁.၄' x ၂၆.၂' x ၁၀.၈') ဖြစ်ပါသည်။
- အပေါ်ထပ်(**First Floor**) ရှိ အခန်းများ၏ တစ်ခန်းအကျယ်အဝန်း မှာ (၂၁.၄' x ၂၆.၂' x ၁၁.၈') ဖြစ်ပါသည်။

| | | |
|---|---|---|
| ၉။ | ဝန်ထမ်းခန့်ထားမှု | **ပြည်တွင်း**<br>ဦးရေ **၆၁ ဦး**<br>အမြင့်ဆုံးလစာ **ကျပ် ၂,၀၀၀,၀၀၀/-**<br>အနိမ့်ဆုံးလစာ **ကျပ် ၁၄၅,၀၀၀/-** |
| ၁၀။ | CSR အစီအစဉ် | - နှစ်စဉ် လုပ်ငန်း အမြတ်ငွေမှ အနည်းဆုံး၂% ကို အောက်ပါအတိုင်း သုံးစွဲမည်ဖြစ်ပါသည်-<br>➢ ပညာရေးကဏ္ဍဖွံ့ဖြိုးတိုးတက်ရေးအတွက် ၂၀%<br>➢ ကျန်းမာရေးကဏ္ဍဖွံ့ဖြိုးတိုးတက်ရေးအတွက် ၂၀%<br>➢ လူမှုရေးကဏ္ဍဖွံ့ဖြိုးတိုးတက်ရေးအတွက် ၃၀%<br>➢ ဒေသဖွံ့ဖြိုးတိုးတက်ရေးအတွက် ၃၀% |
| ၁၁။ | မီးဘေးကြိုတင်ကာကွယ်မှု စီမံချက် | - မီးဘေးကြိုတင် ကာကွယ်မှုအနေဖြင့် Fire Alarm များဖြစ်သော Smoke Detector နှင့် Heat Detector များကို တပ်ဆင်မည်ဖြစ်ပြီး Manual Call Point, Alarm Bell နှင့် Fire Command Center များထည့်သွင်း တည်ဆောက်မည် ဖြစ်ပါကြောင်း၊ ဟိုတယ်အခန်းတိုင်းတွင် မီးသတ်ဆေးဗူးများနှင့်Fire Hosereel များကို တစ်ထပ်လျှင် (၁)လုံးစီဖြင့် အခန်းအားလုံး ရေပက်ဖြန်းနိုင်ရန်ထားရှိမည် ဖြစ်ပါကြောင်း၊ မီးဘေး လုံခြုံရေးအတွက် အနည်းဆုံး ရေဂါလံ (၅၀၀၀) ဆံ့မီးသတ်ရေကန် တစ်ခုနှင့် 10HP ရှိ မော်တာနှင့် ရေစုပ်စပ် အပါအဝင် မီးသတ်ပိုက်နှင့်ပိုက်ခေါင်းများထားရှိမည်ဖြစ်ပါကြောင်း၊ အမှိုက်များကိုမြို့နယ်စည်ပင်သာယာရေးအဖွဲ့၏ ညွှန်ကြားချက်အတိုင်း စွန့်ပစ်မည်ဖြစ်ပါကြောင်း၊ မြို့နယ်မီးသတ်သင်တန်းများသို့ ဟိုတယ်ဝန်ထမ်း(၁၀)ဦးကို တက်ရောက်စေပြီးမီးကာကွယ်ငြိမ်းသတ်ရေးအဖွဲ့များ ဖွဲ့စည်းထားရှိမည် ဖြစ်ကြောင်း တင်ပြ ထားပါ သည်။ |
| ၁၂။ | သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုအစီအစဉ် | - သဘာဝပတ်ဝန်းကျင်နှင့်လူမှုပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်များ ရေးဆွဲလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊(IEE၊ EMP) ရေးဆွဲမည်ဖြစ်ကြောင်းဝန်ခံကတိပြုတင်ပြ ထားပါ သည်။ |

| | | |
|---|---|---|
| ၁၃။ | လုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေး အစီအစဉ် | - သန့်ရှင်းသော ရေနှင့် လေကောင်း လေသန့် ရရှိရေးအတွက် သင့်တော်သော ရေနုတ်မြောင်းစနစ်ထားရှိခြင်း၊ သစ်ပင်များ စိုက်ပျိုးခြင်း၊ နေ့လည်စာစားရန်နှင့် အနားယူရန်အတွက် သင့်တော်သော ခုံတန်းရှည်များနှင့်စားပွဲများနှင့် အမှိုက်ပုံးများ စီစဉ်ပေးခြင်း၊ လေဝင်/ လေထွက်ကောင်းအောင်စီစဉ်ပေးခြင်း၊ သန့်ရှင်းသောအိမ်သာများ တည်ဆောက်ပေးခြင်း၊ ဝန်ထမ်း များ၏ ပူးပေါင်းပါဝင်မှုများနှင့် ကုမ္ပဏီအပေါ်ပံ့ပိုးမှုများကို အသိအမှတ်ပြုပေးခြင်း၊ ကုမ္ပဏီဖွံ့ဖြိုးတိုးတက်မှု အတွက် ဖန်တီးမှုစိတ်ကူးများနှင့်တန်ဖိုးရှိသောအကြံဉာဏ်များ ပေး သည့် ဝန်ထမ်းများအား ခံစားခွင့်များပေးခြင်း၊ ကြို/ပို့ယာဉ် စီစဉ်ပေးခြင်း၊ ရှေးဦးသူနာပြု ပစ္စည်းများနှင် နာမကျန်းသူများ နားနေခန်းထားရှိခြင်း၊ မတော်တဆမှု ဖြစ်ပွားပါက ဆေးရုံသို့ ပို့ပေးခြင်းနှင့် ကုမ္ပဏီကုန်ကျစရိတ်ဖြင့် ကုသပေးခြင်း၊ ယူနီဖောင်းများ စီစဉ်ပေးခြင်း၊ လူမှုဖူလုံရေး ဝင်ပေးခြင်း၊ အချိန်ပိုလုပ်ခအားစည်းမျဉ်း၊စည်းကမ်းများနှင့်အညီ ပေးခြင်း၊ အပါတ်စဉ်အားလပ်ရက်များအပြင်အစိုးရရုံးပိတ်ရက်များတွင် လည်းအားလပ်ရက်ပေးခြင်းတို့ကိုဆောင်ရွက်ပေးမည် ဖြစ်ကြောင်းတင်ပြ ထားပါ သည်။ |
| ၁၄။ | ရှေးဟောင်းသုတေသနနှင့် အမျိုးသားပြတိုက်ဦးစီးဌာန၊ ပုဂံဌာနခွဲ၊ပုဂံမြို့၏ သဘောထားပြန်ကြားချက် | - အဆိုပြု နေရာသည် ကြားခံဒေသ (ယခင် PZ) အတွင်း ကျရောက်ပြီး မျက်မြင်အနေအထား အရ ပေ(၁၂၀) အတွင်း ရှေးဟောင်းအဆောက်အအုံများ မတွေ့ရှိရပါကြောင်း၊ ယခင် The Beach Bagan Restaurant နေရာဖြစ်ပြီး မြို့ပြ ရပ်ကွက် လူနေထိုင်ရာရေိယာအတွင်း ကျရောက်လျှက်ရှိကြောင်း၊ ယခု အခါပုဂံဒေသသည် ကမ္ဘာ့ အမွေအနှစ်နေရာ ဖြစ်သည့်အတွက် ကမ္ဘာ့အမွေအနှစ် တင်သွင်းစဉ်က ဖော်ပြခဲ့သည့် စီမံခန့်ခွဲမှု စနစ် (Management Plan)၊ ပုဂံဒေသဘက်စုံ လွှမ်းစုံသော စီမံခန့်ခွဲရေးမူဘောင် (The Integrated Management Framework IMF)၊ ယဉ်ကျေးမှု အမွေအနှစ်များ ကာကွယ် |

| | | |
|---|---|---|
| | | ထိန်းသိမ်းရေးဥပဒေ(၂၀၁၉)(The 2019 Law For the Protection and Preservation of Culture Heritage Zones) တို့တွင် ဖော်ပြထားသော စည်းမျဉ်း၊ စည်းကမ်းများ အတိုင်း လိုက်နာ ဆောင်ရွက်ရမည် ဖြစ်ပါကြောင်း သဘောထား ပြန်ကြား ထားပါသည်။ |
| ၁၅။ | အခြားတင်ပြချက်များ | - မြေပိုင်ရှင် Chindwin Investments Limited နှင့် Riverside Bagan Limited တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)၊ Chindwin Investments Limited အမည်ဖြင့် နှစ်(၃၀)အသုံးပြုခွင့် ရရှိထားသည့် မြေဂရံမိတ္တူများ၊ ဘိုးဘွားပိုင် မြေအထောက်အထားအဖြစ် (ပုံစံ-၁၀၅)မိတ္တူများနှင့် စက်မှုစီပွားဂရံပြောင်းလဲ လျှောက်ထားခွင့်တင်ပြစာ မိတ္တူတို့ကို ပူးတွဲထားပါ သည်။<br>- မြေပိုင်ရှင် Chindwin Investments Limited မှ နှစ်(၃၀) ဂရံသက်တမ်းကုန်ဆုံးသည့်အခါ သက်တမ်းတိုး ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာနှင့် ကုမ္ပဏီ၏BOD ဆုံးဖြတ်ချက်တင်ပြထားပါသည်။<br>- ပတ်ဝန်းကျင်တည်နေရာပြမြေပုံနှင့်ဆောက်လုပ်မည့် အဆောက်အဦပုံစံများ၊ Drawingများ၊ ဟိုတယ်တည်ဆောက်မည့် Time Schedule တို့ကိုတင်ပြထားပါသည်။<br>- ဟိုတယ်လုပ်ငန်းသုံး ပစ္စည်းများအား ပြည်တွင်း/ပြည်ပ မှ ဝယ်ယူ အသုံးပြုမည် ဖြစ်ပါသည်။<br>- ဟိုတယ်ရှေ့မျက်နှာစာတွင် ကား(၁၅)စီး ရပ်နားရန် ကားပါကင်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းတင်ပြ ထားပါသည်။<br>- ဝန်ထမ်း၊ အလုပ်သမားများ၏လုပ်ခ၊ လစာနှင့် ပတ်သက် ၍ သက်ဆိုင်ရာ တည်ဆဲဥပဒေများ၊ နည်းဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများ၊ အမိန့်ကြော်ငြာစာ၊ အမိန့်ညွှန်ကြား ချက်နှင့် လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - အလုပ်သမားအချင်းချင်း၊ အလုပ်ရှင်နှင့် အလုပ်သမားတို့ အကြား ပေါ်ပေါက်လာသည့် အငြင်းပွားမှုများအား သက်ဆိုင်ရာ တည်ဆဲဥပဒေများ နှင့်အညီ ဖြေရှင်း ဆောင်ရွက်သွားပါမည်ဟု ဝန်ခံကတိတင်ပြထားပါသည်။<br>- ရင်းနှီးမြှုပ်နှံသူ၏ ပတ်စပို့ မိတ္တူ နှင့် ကုမ္ပဏီဆိုင်ရာ အချက်အလက်များ တင်ပြထားပါ သည်။<br>- နိုင်ငံခြား မတည်ငွေရင်းအား(၃)နှစ် အတွင်း ယူဆောင်လာမည်ဖြစ်ပါသည်။ |
| ၁၆။ | **စိစစ်တင်ပြချက်** | - မန္တလေးတိုင်းဒေသကြီးအတွင်း ဟိုတယ်လုပ်ငန်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုလုပ်ငန်း(၅)ခုနှင့်မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း(၃၅) ခုတို့ကို ခွင့်ပြုမိန့်ထုတ်ပေးထားပြီး မန္တလေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှု ကော်မတီမှ ထုတ်ပေးထားသည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း (၂) ခုနှင့် နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း (၈)ခုတို့ ပါဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့် တင်မည့်ကဏ္ဍတွင် ပါဝင်ပြီး ဖွံ့ဖြိုးတိုးတက်မှုဇုန် (၃) တွင် ပါဝင် သဖြင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် ၃ နှစ် ခံစားခွင့် လျှောက်ထား နိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊ ၂၂/၄၄/၀၃(န- ၃၆) (၀၂၁၀ /၂၀၂၀)

ရက်စွဲ ၊ ၂၀၂၀ ပြည့်နှစ် ၊မတ် လ ၁၁ ရက်။

**မန္တလေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Riverside Bagan Limited မှ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်း ကိစ္စ။**

၁။ စင်ကာပူနိုင်ငံ၊ MM(BL)PTE.LTD မှ၁၀၀% ထည့်ဝင်ပြီး မြန်မာနိုင်ငံတွင် Riverside Bagan Limited တည်ထောင်၍ ဦးပိုင်အမှတ်-(၆က)၊(၆ခ)၊(၆ဃ)၊(၆င)၊(၆စ)၊(၆ဆ)၊(၆ဇ)၊(၇က)၊(၇ခ)၊ (၇ဃ)၊၉၊၁၀၊ ကွင်းအမှတ်(၉-ရွာသစ်မြောက်)၊ အမှတ်(၄)ရပ်ကွက် နှင့် ဦးပိုင်အမှတ်(၁၁၊၁၂၊၁၃)၊ ကွင်းအမှတ် (၁၂-ယွန်းတန်းနှင့်ဇရပ်ကြီးဈေး)၊အမှတ်(၂)ရပ်ကွက်၊ညောင်ဦးမြို့နယ်၊ ညောင်ဦးခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ ၄.၃၁ဧက (၁၇၄၄၁.၉၆၆၆ စတုရန်းမီတာ) အား ငှားရမ်း၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် Chindwin Investments Limited နှင့် Riverside Bagan Limited တို့ အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း)၊ Chindwin Investments Limited အမည်ဖြင့် နှစ်(၃၀)အသုံးပြုခွင့်ရရှိထားသည့် မြေဂရံမိတ္တူများ၊ ဘိုးဘွားပိုင်မြေအထောက်အထား မိတ္တူများ နှင့် စက်မှုစီပွားဂရံ ပြောင်းလဲလျှောက်ထားခွင့် တင်ပြစာမိတ္တူ၊ ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံကူး လက်မှတ် မိတ္တူ နှင့် ကုမ္ပဏီဆိုင်ရာ အချက်အလက်တို့ကို တင်ပြထားပါသည်။

၃။ တည်ဆောက်ရေးကာလမှာ ၂ နှစ် ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၄.၆၀၀ သန်း ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အသေးစိတ်မှာ တစ်ဘက်ပါအတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| ငွေသား | - | US$ | ၀.၄၅၁ သန်း |
| ဟိုတယ်တည်ဆောက်ရေးသုံးပစ္စည်း(ပြည်တွင်းဝယ်) | - | US$ | ၀.၀၅၃ သန်း |
| ဟိုတယ်အတွင်းပိုင်းသုံးပစ္စည်း (ပြည်တွင်းဝယ်) | - | US$ | ၀.၄၃၃ သန်း |
| ဟိုတယ်အတွင်းပိုင်းသုံးပစ္စည်း (ပြည်ပဝယ်) | - | US$ | ၁.၈၈၉ သန်း |
| ဟိုတယ်လုပ်ငန်းသုံးပစ္စည်း (ပြည်ပဝယ်) | - | US$ | ၀.၃၄၁ သန်း |
| Jettyဆက်စပ်ပစ္စည်းများ (ပြည်ပဝယ်) | - | US$ | ၀.၀၇၁ သန်း |
| မြေ ငှားရမ်းခ | - | US$ | ၀.၅၀၀ သန်း |
| Project Management & Design Fee | - | US$ | ၀.၈၄၂ သန်း |
| **စုစုပေါင်း** | **-** | **US$** | **၄.၆၀၀သန်း** |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၆၁)ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း တစ်ဦး၏ လစာမှာ အနိမ့်ဆုံး ကျပ် ၁၄၅,၀၀၀/- နှင့် အမြင့်ဆုံး ကျပ် ၂,၀၀၀,၀၀၀/- ဖြစ်ပါ သည်။

၆။ အခန်း အရေအတွက်နှင့် ဝန်ဆောင်ခ နှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **အမျိုးအစား** | **အခန်း အရေ အတွက်** | **အခန်းငှားရမ်းခနှုန်း US$** | |
|---|---|---|---|
| | | **High Season (Octomber to March)** | **Lower Season (April to September)** |
| River View Villa (Deluxe) (၂)ခန်းတွဲ(၂)ထပ် (၃)လုံး | ၁၂ | ၃၀၀ | ၂၀၀ |
| Garden View Villa(Deluxe) (၂)ခန်းတွဲ(၂)ထပ် (၆)လုံး | ၂၄ | ၃၀၀ | ၂၀၀ |
| **စုစုပေါင်း** | **၃၆** | | |

၇။ စုစုပေါင်း အဆောက်အဦး (၁၄)လုံး တည်ဆောက်မည်ဖြစ်ပါသည်။ Lobby/Lounge/ Front office(၂)ထပ် (၁)လုံး၊ Spa (၁)ထပ် (၁)လုံး ၊ Hotel BOH (၂)ထပ်(၁)လုံး၊ Retail/ F&B/ BOH (၂)ထပ် (၁)လုံး၊ River View Villas(၂)ခန်းတွဲ(၂)ထပ်(၃)လုံး၊ Garden View Villas (၂)ခန်းတွဲ(၂)ထပ်(၆)လုံးနှင့်Retail/Shop(၂)ထပ်(၁)လုံးတို့ တည်ဆောက်မည်ဖြစ်ပြီး ရေကူးကန် ပါဝင်ပါသည်။ဟိုတယ် အောက်ထပ် (Ground Floor) ရှိ အခန်းများ ၏ တစ်ခန်းအကျယ်အဝန်း မှာ (၂၃.၄' x ၂၆.၂' x ၁၀.၈') ဖြစ်ပြီး အပေါ်ထပ်(First Floor) ရှိ အခန်းများ၏ တစ်ခန်း အကျယ်

အဝန်းမှာ(၂၁.၄' x ၂၆.၂' x ၁၁.၈') ဖြစ်ပါသည်။ ဟိုတယ်အရှေ့မျက်နှာစာတွင် ကား(၁၅)စီး ရပ်နားရန်အတွက်ကားရပ်နားရန်နေရာတည်ဆောက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၈။ ရှေးဟောင်းသုတေသနနှင့် အမျိုးသားပြတိုက်ဦးစီးဌာန၊ ပုဂံဌာနခွဲ၊ ပုဂံမြို့မှ အဆိုပြု နေရာ သည် ကြားခံဒေသ (ယခင် PZ) အတွင်း ကျရောက်ပြီး မျက်မြင်အနေအထား အရ ပေ(၁၂၀) အတွင်း ရှေးဟောင်းအဆောက်အအုံများ မတွေ့ရှိရပါကြောင်း၊ ယခင် The Beach Bagan Restaurant နေရာဖြစ်ပြီး မြို့ပြရပ်ကွက်လူနေထိုင်ရာ ဇရိယာအတွင်း ကျရောက်လျက် ရှိကြောင်း၊ ယခုအခါ ပုဂံဒေသသည် ကမ္ဘာ့အမွေအနှစ်နေရာ ဖြစ်သည့်အတွက် ကမ္ဘာ့အမွေအနှစ် တင်သွင်းစဉ်က ဖော်ပြခဲ့သည့် စီမံခန့်ခွဲမှုစနစ် (Management Plan)၊ ပုဂံဒေသဘက်စုံ လွှမ်းခြုံ သော စီမံခန့်ခွဲရေးမူဘောင် (The Integrated Management Framework IMF)၊ ယဉ်ကျေးမှု အမွေအနှစ်များကာကွယ် ထိန်းသိမ်းရေးဥပဒေ(၂၀၁၉)(The 2019 Law For the Protection and Preservation of Culture Heritage Zones) တို့တွင် ဖော်ပြထားသော စည်းမျဉ်း၊ စည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည် ဖြစ်ပါကြောင်း သဘောထား ပြန်ကြား ထားပါသည်။

၉။ **စိစစ်တင်ပြချက်**

(က) မြေပိုင်ရှင် Chindwin Investments Limited မှ နှစ်(၃၀) မြေငှားရမ်း သက်တမ်း ကုန်ဆုံးသည့်အခါ သက်တမ်းတိုးဆောင်ရွက်ပေးမည်ဖြစ်ကြောင်းဝန်ခံကတိ တင်ပြ ထားပါသည်။

(ခ) **CSR** အနေဖြင့် လုပ်ငန်း၏ နှစ်စဉ်အမြတ်ငွေမှ အနည်းဆုံး၂% ကို အောက်ပါ အတိုင်း သုံးစွဲမည်ဖြစ်ပါသည်-

- ပညာရေးကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေးအတွက် ၂၀%
- ကျန်းမာရေးကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေးအတွက် ၂၀%
- လူမှုရေးကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေးအတွက် ၃၀%
- ဒေသဖွံ့ဖြိုးတိုးတက်ရေး အတွက် ၃၀%

(ဂ) **မီးဘေးကြိုတင် ကာကွယ်မှု အနေဖြင့်** Fire Alarm များ ဖြစ်သော Smoke Detector နှင့် Heat Detector များကို တပ်ဆင်မည်ဖြစ်ပြီး Manual Call Point, Alarm Bell နှင့် Fire Command Center များထည့်သွင်း တည်ဆောက်မည် ဖြစ်ပါ ကြောင်း၊ဟိုတယ်အခန်းတိုင်းတွင်မီးသတ်ဆေးဗူးများနှင့် Fire Hosereel များကို တစ်ထပ်လျှင် (၁)လုံးစီဖြင့် အခန်းအားလုံး ရေပက်ဖြန်းနိုင်ရန် ထားရှိမည် ဖြစ်ပါ ကြောင်း၊ မီးဘေးလုံခြုံရေး အတွက်အနည်းဆုံး ရေဂါလံ (၅၀၀၀) ဆံ့ မီးသတ်

ရေကန် တစ်ခုနှင့် 10HP ရှိ မော်တာနှင့် ရေစုပ်စပ် အပါအဝင် မီးသတ်ပိုက်နှင့် ပိုက်ခေါင်းများ ထားရှိမည် ဖြစ်ပါကြောင်း၊ အမှိုက်များကို မြို့နယ်စည်ပင်သာယာရေးအဖွဲ့၏ ညွှန်ကြားချက်အတိုင်း စွန့်ပစ်မည် ဖြစ်ပါကြောင်း၊ မြို့နယ် မီးသတ်သင်တန်းများသို့ ဟိုတယ်ဝန်ထမ်း(၁၀)ဦးကို တက်ရောက်စေပြီး မီးကာကွယ်ငြိမ်းသတ်ရေး အဖွဲ့များ ဖွဲ့စည်း ထားရှိမည် ဖြစ်ကြောင်း တင်ပြထားပါ သည်။

(ဃ) **သဘာဝပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန်** သဘာဝပတ်ဝန်းကျင်နှင့် လူမှုပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များ ရေးဆွဲပြီး လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊IEE၊EMP ရေးဆွဲမည်ဖြစ်ကြောင်း ဝန်ခံကတိပြု တင်ပြ ထားပါသည်။

(င) **လုပ်ငန်းခွင်သက်သာချောင်ချိရေးအနေဖြင့်** သန့်ရှင်းသော ရေနှင့် လေကောင်းလေသန့် ရရှိရေးအတွက် သင့်တော်သော ရေနုတ်မြောင်းစနစ်ထားရှိခြင်း၊ သစ်ပင်များ စိုက်ပျိုးခြင်း၊ နေ့လည်စာစားရန်နှင့် အနားယူရန် အတွက်သင့်တော်သော ခုံတန်းရှည်များနှင့်စားပွဲများ နှင့် အမှိုက်ပုံးများ စီစဉ်ပေးခြင်း၊ လေဝင်/ လေထွက်ကောင်းအောင်စီစဉ်ပေးခြင်း၊ သန့်ရှင်းသော အိမ်သာများ တည်ဆောက် ပေးခြင်း၊ ဝန်ထမ်းများ၏ပူးပေါင်းပါဝင်မှုများနှင့် ကုမ္ပဏီအပေါ် ပံ့ပိုးမှုများကို အသိအမှတ်ပြုပေးခြင်း၊ ကုမ္ပဏီဖွံ့ဖြိုးတိုးတက်မှု အတွက် ဖန်တီးမှုစိတ်ကူးများနှင့် တန်ဖိုးရှိသောအကြံဉာဏ်များပေးသည့်ဝန်ထမ်းများအား ခံစားခွင့်များပေးခြင်း၊ ကြို/ပို့ယာဉ် စီစဉ်ပေးခြင်း၊ ရှေးဦးသူနာပြု ပစ္စည်းများနှင် နာမကျန်းသူများ နားနေခန်းထားရှိခြင်း၊ မတော်တဆမှု ဖြစ်ပွားပါက ဆေးရုံသို့ ပို့ပေးခြင်းနှင့် ကုမ္ပဏီကုန်ကျစရိတ်ဖြင့်ကုသပေးခြင်း၊ ယူနီဖောင်းများစီစဉ်ပေးခြင်း၊ လူမှုဖူလုံရေးဝင်ပေးခြင်း၊ အချိန်ပိုလုပ်ခအား စည်းမျဉ်း၊စည်းကမ်းများနှင့်အညီ ပေးခြင်း၊ အပါတ်စဉ် အားလပ်ရက်များအပြင် အစိုးရရုံးပိတ်ရက်များတွင်လည်း အားလပ်ရက်ပေးခြင်းတို့ကိုဆောင်ရွက်ပေးမည်ဖြစ်ကြောင်းတင်ပြ ထားပါ သည်။

(စ) ပတ်ဝန်းကျင် တည်နေရာပြ မြေပုံ နှင့် ဆောက်လုပ်မည့် အဆောက်အဦပုံစံများ၊ Drawing များ၊ဟိုတယ်တည်ဆောက်မည့်Time Schedule တို့ကိုတင်ပြထားပါသည်။

(ဆ) ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများအား ပြည်တွင်း/ပြည်ပမှ ဝယ်ယူအသုံးပြုမည်ဖြစ်ပါသည်။

(ဇ) ဟိုတယ်ရှေ့မျက်နှာစာတွင်ကား(၁၅)စီး ရပ်နားရန် ကားပါကင် နေရာ ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

(ဈ) ဝန်ထမ်း၊ အလုပ်သမားများ၏ လုပ်ခ၊လစာနှင့်ပတ်သက်၍ သက်ဆိုင်ရာ တည်ဆဲဥပဒေများ၊ နည်းဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများ၊ အမိန့်ကြော်ငြာစာ၊ အမိန့်ညွှန်ကြားချက်နှင့် လုပ်ထုံးလုပ်နည်းများ နှင့်အညီ လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံ ကတိ တင်ပြထားပါသည်။

(ည) အလုပ်သမား အချင်းချင်း၊ အလုပ်ရှင်နှင့် အလုပ်သမားတို့အကြား ပေါ်ပေါက်လာသည့် အငြင်းပွားမှုများအား သက်ဆိုင်ရာ တည်ဆဲဥပဒေများ နှင့်အညီ ဖြေရှင်းဆောင်ရွက် သွားပါမည်ဟု ဝန်ခံကတိတင်ပြထားပါသည်။

(ဋ) မန္တလေးတိုင်းဒေသကြီးအတွင်း ဟိုတယ်လုပ်ငန်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း (၅) ခုနှင့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း (၃၅) ခုတို့ကို ခွင့်ပြုမိန့်ထုတ်ပေးထားပြီး မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီမှ ထုတ်ပေးထားသည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း(၂) ခုနှင့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှု လုပ်ငန်း(၈)ခုတို့ ပါဝင်ပါသည်။

(ဌ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့် တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ဖွံ့ဖြိုးတိုးတက်မှုဇုန် (၃) တွင်ပါဝင်သဖြင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် ၃ နှစ် ခံစားခွင့်လျှောက်ထား နိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Riverside Bagan Limited မှ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်တင်ပြ လာခြင်းနှင့် စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(နွယ်နီဦး၊အတွင်းရေးမှူး)